ကုမ္ပဏီအမည်- Lian Cheng Co., Ltd.
လုပ်ငန်း- CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၂-၅-၂၀၁၄ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံ ရေးဦးစီးဌာန | ၁၄-၅-၂၀၁၄ | ၁၉-၅-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၅-၅-၂၀၁၄ | ၂၂-၇-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁၅-၅-၂၀၁၄ | ၂၈-၅-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၁၅-၅-၂၀၁၄ | ၆-၆-၂၀၁၄ | |
| | (င) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ၁၅-၅-၂၀၁၄ | ၂၇-၅-၂၀၁၄ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၂၀/၂၀၁၄) သို့ တင်ပြခြင်း | ၁၅-၅-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၂-၅-၂၀၁၄ | | |
| ၅ | **မြေအသုံးပြုခွင့်တင်ပြခြင်း** | | | |
| | (က) ကော်မရှင်အစည်းအဝေး (၁၅/၂၀၁၄) သို့ တင်ပြခြင်း | ၃၀-၅-၂၀၁၄ | | |
| | (ခ) စီးပွားရေးရာကော်မတီအစည်းအဝေး (၂၀/၂၀၁၄)သို့ တင်ပြခြင်း | ၁၈-၆-၂၀၁၄ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ (၁၃/၂၀၁၄) အစည်းအဝေးသို့တင်ပြခြင်း | ၃-၇-၂၀၁၄ | | |
| ၆ | ကုမ္ပဏီသို့ လိုအပ်ချက်များပြင်ဆင်ရန် အကြောင်းကြားခြင်း | ၆-၆-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြင်ဆင်တင်ပြခြင်း | | ၅-၇-၂၀၁၄ | |
| ၈ | ကုမ္ပဏီ၏ ပြင်ဆင်ချက်များအား စက်မှု ဝန်ကြီး ဌာနနှင့် CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီတို့မှ ပြန်လည်ပေးပို့ခြင်း | | ၁၆-၇-၂၀၁၄ | |
| ၉ | **ကုမ္ပဏီမှ တွက်ချက်မှုများ ပြန်လည်ပြင်ဆင် ခြင်း** | | ၃၀-၇-၂၀၁၄ | |
| ၁၀ | **စုစုပေါင်းကြာမြင့်ရက် ၈၀ ရက်** | | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Lian Cheng Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ် ၁၄၉၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၀.၅၀၄ သန်း |
| ရောင်းချမည့်စနစ် | - | ပြည်ပသို့ ၁၀၀ % တင်ပို့ရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၁၀ နှစ်နှင့် ၅ နှစ်သက်တမ်း (၂) ကြိမ်တိုးမည်ဖြစ်ပါသည်။ |
| အရင်းကြေကာလ | - | ၄ နှစ် ၁ လ |
| IRR | - | ၂၇.၄၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၈.၄၇ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၂၉.၄၆ သန်း | ကျပ် ၄၈၂.၆၉ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၇၂.၉ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် သိန်း (၂၀) ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၂) ဦး |
| ၈ | CSR | | ကျပ် ၁၇.၆ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၁၆၆.၉၃ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၄၄ ဦး<br>ပြည်ပ ၈ ဦး<br>ပြည်တွင်းလုပ်သား (၇၄၄) ဦး အလုပ် အကိုင် ရရှိမည် ဖြစ်၍ ဒေသ အလုပ် အ ကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွား ရေး ဖွံ့ ဖြိုး တိုးတက်မှုကို အထောက် အကူ ပြုစေ ပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများ ပိုမို ရရှိစေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၁၅၉.၄၇၈ သန်း** | **ကျပ် ၇၈၇.၂၈၅ သန်း** |
| | | ၁ း ၄ | |

ကန့်သတ်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lian Cheng Co., Ltd. တည်ထောင် ၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Lian Cheng Co., Ltd.<br>- Mr. Bingxue Zhao (တရုတ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mr. Bingxue Zhao (တရုတ်နိုင်ငံသား) ၉၉ %<br>- Mrs.Jianmei Zhou (တရုတ်နိုင်ငံသား) ၁ % |
| | လုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၁၄၉၊လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာ ယာမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေ ၄၄၅၉.၆၄၀ စတုရန်းမီတာ (၁.၁၀၂ ဧက) |
| | မြေပိုင်ရှင် | - ဦးမောင်မောင်ခိုင် |
| ၃။ | နှစ်စဉ်မြေ နှင့် အဆောက်အဦငှားရမ်းခ | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန် ဒေါ်လာ (၂၅,၁၀၃) ဖြစ်ပါသည်။<br>- အဆောက်အဦ(၃)လုံးပါဝင်ပါသည်။<br>- အဆောက်အဦ ၀.၆၉၃ဧက(၂၈၀၄.၄၇၄ စတုရန်း မီတာ)<br>- မြေ ၀.၄၀၉ ဧက (၁၆၅၅.၁၆၆ စတုရန်း မီတာ)<br>- မြေ (၁)နှစ် တစ်စတုရန်းမီတာလျှင်အမေရိကန်ဒေါ်လာ (၅) နှုန်း ဖြစ်ပါသည်။<br>- မြေပါ အဆောက်အဦ (၁) နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ(၆)နှုန်း |
| | မြေငှားသက်တမ်း | - ၁၀ နှစ်နှင့် ၅ နှစ်(၂)ကြိမ် သက်တမ်း တိုးမည်ဖြစ်ပါ သည်။ |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက် အရ ၅နှစ် (၂)ကြိမ် သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၀.၅၀၄ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - US$ သန်း |
| | ငွေသား(ပြည်ပ) | ၀.၁၆၇ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၃၀၀ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၃၇ |
| | မော်တော်ယာဉ်(ပြည်တွင်း) | |
| | **စုစုပေါင်း** | ၀.၅၀၄ |

ကန့်သတ်

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၇၅၂ ဦး** |
| | ပြည်တွင်း | - ၇၄၄ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀၊ အမြင့်ဆုံး လစာ မှာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | - ၈ ဦး (ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$၁,၄၀၀၊ အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ် ) | - US$ ၂.၅၉၆၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဌမနှစ် ) | - US$ ၂.၄၀၅၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဌမနှစ်) | - US$ ၀.၁၉၀၅ သန်း |
| | | - အမေရိကန်တစ်ဒေါ်လာလျှင်(၉၅၀)ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၆၃၅ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၇.၄၂ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၁၅ KVA |
| ၁၁။ | ပြည်ပမှအခွန်အကောက်ကင်းလွတ်ခွင့်တောင်းခံခြင်း | |
| | (က) စက်ပစ္စည်း | - US$ ၂၉၉,၇၀၀ တန်ဖိုးရှိ စက်ပစ္စည်းများကို **ပူးတွဲ-၁** ဖြင့် တင်ပြထားပါသည်။ |
| | (ခ ) ကုန်ကြမ်းပစ္စည်း | - **ပူးတွဲ-၂** ဖြင့် တင်ပြထားပါသည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့် လေ့လာ မည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက် သာချောင်ချိရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသား တင် အမြတ်ငွေမှ ၂ % ကို ရန်ပုံငွေအဖြစ် လျာထားပါ ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေးကြိုတင် ကာကွယ်ရေးအတွက် ရေဂါလံ ၁၀၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက် ထားရှိ မည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦ မှာလည်းမီး လောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်တို့ဖြင့် တည် ဆောက်ထားခြင်းဖြစ်ပြီး ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့် ထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံနံရံတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းတွင် မီးဘေး အန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ် ထားပြီး ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက် ရန်လည်း စီမံထားပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံ အတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ် သောက်ခြင်းကို ပြဌာန်းထားသော ဥပဒေများနှင့် အညီ တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက် သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက် ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၃/ န-၁၀၂၅၊၁၀၃၁ /၂၀၁၄( ၉၀ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Haoyang International Garment Co., Ltd. နှင့် Lian Cheng Co., Ltd. တို့မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Haoyang International Garment Co., Ltd. (British Virgin Islands(BVI) နှင့် Lian Cheng Co., Ltd. (တရုတ်ပြည်သူ့သမ္မတနိုင်ငံ)တို့သည် မြန်မာနိုင်ငံတွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့် သက်ဆိုင်သော အချိန်ဇယား၊ အကျိုးအမြတ်၊ လုပ်ငန်းအကျဉ်းချုပ်၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာန၊ CMP လုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ တို့၏ သဘောထားမှတ်ချက်တို့ကို ပူးတွဲအဖြစ် တင်ပြအပ်ပါသည်။

၃။ အဆိုပြုတင်ပြချက်များအရ လုပ်ငန်းများ၏ အဓိကအချက်အလက်များဖြစ်သော တည်နေရာ၊ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု၊ ထုတ်လုပ်မည့်ပစ္စည်း၊ လုပ်သားအင်အား၊ မြေငှားကာလနှင့် မြေငှားရမ်းခ စသည့်အချက်တို့မှာ အောက်ပါအတိုင်းဖြစ်ကြောင်း တင်ပြအပ်ပါသည်-

| အကြောင်းအရာ | Myanmar Haoyang International Garment Co., Ltd. | Lian Cheng Co., Ltd. |
|---|---|---|
| **တည်နေရာ** | မြေကွက်အမှတ်(၄၉၇)၊မြေတိုင်းရပ်ကွက်အမှတ် (၂၅)၊ ပိတောက်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး | မြေကွက်အမှတ် ၁၄၉၊ လှိုင်သာယာစက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီး |
| **စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု** | US$ ၀.၈၁၂၈ သန်း | US$ ၀.၅၀၄ သန်း |

| | | | | | | |
|---|---|---|---|---|---|---|
| **ထုတ်လုပ်မည့် ပစ္စည်း** | | မြည်ပပို့ (Doz) | CMP (US$/Doz) | | မြည်ပပို့ (Pcs) | CMP (US$/Pcs) |
| | All kinds of Jacket | ၂၂,၀၀၀ | ၂၀ | Sweater | ၂၇၄,၄၂၈ | ၃.၈ |
| | All kinds of Pants | ၃၈,၀၀၀ | ၁၅ | Shirt | ၁၆၄,၃၆၂ | ၁.၈ |
| | All kinds of trouser | ၃၅,၀၀၀ | ၁၇ | Wind coat | ၂၀၉,၅၄၂ | ၂.၅ |
| | All kinds of Pajamas | ၄၂,၀၀၀ | ၁၁ | Cotton-padded Jacket | ၁၄၆,၃၆၂ | ၄ |
| | All kinds of Coat | ၃၀,၀၀၀ | ၂၇ | Pants | ၉၀,၄၇၆ | ၁.၇ |
| **လုပ်သားအင်အား** | ၁၀၈၂ | | | ၇၅၂ | | |
| **ပြည်တွင်း** | ၁၀၆၇ | | | ၇၄၄ | | |
| **ပြည်ပ** | ၁၅ | | | ၈ | | |
| **မြေငှားရမ်းကာလ** | ကနဦး ၃၀ နှစ် နောက် ထပ် ၅နှစ် တစ်ကြိမ် | | | ကနဦး ၁၀ နှစ် နောက် ထပ် ၅ နှစ် ၂ ကြိမ် | | |
| **မြေနှင့်အဆောက်ဦး ငှားရမ်းခ** | US$ ၄၃,၂၀၀ | | | US$ ၂၅,၁၀၃ | | |

၄။ Myanmar Haoyang International Garment Co., Ltd.မှ US$ ၀.၈၁၂၈ သန်း နှင့် Lian Cheng Co., Ltd. မှ US$ ၀.၅၀၄ သန်း တို့ကို ကိုယ်ပိုင်မတည်ငွေရင်းဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၆။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၇။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၉/၂၀၁၄ (၉-၅-၂၀၁၄) နှင့် ၂၀/၂၀၁၄ (၁၅-၅-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါ သည်။

၈။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စု အစိုးရအဖွဲ့၏ ၂၀၁၄ ခုနှစ်

ဇွန်လ ၄ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၄) နှင့် ၂၀၁၄ ခုနှစ် ဇူလိုင်လ ၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၃/၂၀၁၄ မှ သဘော တူထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Haoyang International Garment Co., Ltd. (British Virgin Islands(BVI) နှင့် Lian Cheng Co., Ltd. (တရုတ်ပြည်သူ့သမ္မတနိုင်ငံ) တို့သည် မြန်မာနိုင်ငံတွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဦးကျော်ဌေး(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Haoyang International Garment Co., Ltd.နှင့် Lian Cheng Co., Ltd. တည်ထောင် ၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ် ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Myanmar Haoyang International Garment Co., Ltd.<br>- Mr.He Wei(တရုတ်နိုင်ငံသား) | - Lian Cheng Co., Ltd.<br>- Mr. Bingxue Zhao (တရုတ်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | -ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Haoyang International Trading Co.,Ltd.<br>- British Virgin Islands(BVI) ၉၉%<br>- Mrs.Liu Meiling(တရုတ်နိုင်ငံသား) ၁% | - ရာခိုင်နှုန်းပြည့်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mr. Bingxue Zhao (တရုတ်နိုင်ငံသား) ၉၉ %<br>- Mrs.Jianmei Zhou (တရုတ်နိုင်ငံသား) ၁ % |
| | လုပ်ငန်းအမျိုးအစား | CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း | - CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၄၉၇၊ မြေတိုင်းအမှတ် (၂၅)၊ ပိတောက်လမ်း၊ ရွှေလင်ပန်းစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | - မြေကွက်အမှတ် ၁၄၉၊လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီး |
| | မြေအကျယ်အဝန်း | - မြေ ၈၅၆၇.၂၀ စတုရန်းမီတာ (၂.၁၁၇ဧက)<br>- (၁၂၀ပေx၃၂၀ပေ တစ်ထပ်အဆောက်အဦတစ်လုံး)(စက်ရုံ)<br>- (၁၂၀ပေx၂၀ပေ တစ်ထပ်အဆောက်အဦတစ်လုံး)(ရုံး) | - မြေ ၄၄၅၉.၆၄၀ စတုရန်းမီတာ (၁.၁၀၂ ဧက) |
| | မြေပိုင်ရှင် | - ဒေါ်စိုးမိုးမိုင်(ခ)မစောင့်ကျန်မိုင် | - ဦးမောင်မောင်ခိုင် |
| ၃။ | နှစ်စဉ်မြေ နှင့် အဆောက်အဦငှားရမ်းခ | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၄၃,၂၀၀) ဖြစ်ပါသည်။<br>- မြေနှင့်အဆောက်အဦး (၁)နှစ် တစ်စတုရန်းမီတာလျှင်အမေရိကန်ဒေါ်လာ (၅.၀၄၃) နှုန်း ဖြစ်ပါသည်။ | - နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ (၂၅,၁၀၃) ဖြစ်ပါသည်။<br>- အဆောက်အဦ(၃)လုံးပါဝင်ပါသည်။<br>- အဆောက်အဦ ၀.၆၉၃ဧက(၂၈၀၄.၄၇၄ စတုရန်း မီတာ)<br>- မြေ ၀.၄၀၉ ဧက (၁၆၅၅.၁၆၆ စတုရန်း မီတာ)<br>- မြေ (၁)နှစ် တစ်စတုရန်းမီတာလျှင်အမေရိကန်ဒေါ်လာ (၅) နှုန်း ဖြစ်ပါသည်။<br>- မြေပါ အဆောက်အဦ (၁) နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ(၆)နှုန်း |
| | မြေငှားသက်တမ်း | - ၃၀ နှစ် နှင့် ၅ နှစ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ | - ၁၀ နှစ်နှင့် ၅ နှစ်(၂)ကြိမ် သက်တမ်း တိုးမည်ဖြစ်ပါ သည်။ |

| | | | |
|---|---|---|---|
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက်အရ ၅ နှစ် (၁)ကြိမ် သက်တမ်းတိုး | - ကနဦး ၁၀ နှစ်နှင့် နှစ်ဦးသဘောတူညီချက် အရ ၅နှစ် (၂)ကြိမ် သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ | - ၁၈ လ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၀.၈၁၂၈ သန်း | - အမေရိကန်ဒေါ်လာ ၀.၅၀၄ သန်း |
| | ထည့်ဝင်သည့် အမျိုးအစား | - US$ (သန်း) | - US$ သန်း |
| | ငွေသား(ပြည်ပ) | ၀.၁၅၀၀ | ၀.၁၆၇ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၆၀၇၀ | ၀.၃၀၀ |
| | ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၀.၀၁၅၈ | ၀.၀၃၇ |
| | မော်တော်ယာဉ်(ပြည်တွင်း) | ၀.၀၄၀၀ | |
| | **စုစုပေါင်း** | ၀.၈၁၂၈ | ၀.၅၀၄ |
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - **၁၀၈၂ ဦး** | - **၇၅၂ ဦး** |
| | ပြည်တွင်း | - ၁၀၆၇ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$၁၀၀၊ အမြင့်ဆုံးလစာမှာ US$၅၀၀) | - ၇၄၄ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀၊ အမြင့်ဆုံး လစာမှာ ကျပ် ၄၀၀,၀၀၀) |
| | ပြည်ပ | - ၁၅ ဦး (ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၈၀၀ ၊ အမြင့်ဆုံးလစာမှာ US$ ၁၅,၀၀) | - ၈ ဦး (ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$၁,၄၀၀၊ အမြင့်ဆုံးလစာမှာ US$ ၂,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း | - ၁၀၀ % ပြည်ပသို့ တင်ပို့ခြင်း |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ်) | - US$ ၂.၈၉၉၀ သန်း | - US$ ၂.၅၉၆၁ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ်) | - US$ ၂.၆၀၁၀ သန်း | - US$ ၂.၄၀၅၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၀.၂၉၈၀ သန်း | - US$ ၀.၁၉၀၅ သန်း |
| | | - အမေရိကန်တစ်ဒေါ်လာလျှင် (၉၅၀)ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ | - အမေရိကန်တစ်ဒေါ်လာလျှင်(၉၅၀)ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။ |

| | | | |
|---|---|---|---|
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | | |
| | ဝင်ငွေခွန် | US$ ၀.၀၉၉၃ သန်း | - US$ ၀.၆၃၅ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် ၂လ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၅.၄၈ % | - ၂၇.၄၂ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၀၈၇၀၀ Unit | - ၃၁၅ KVA |
| ၁၁။ | ပြည်ပမှအခွန်အကောက်ကင်းလွတ်ခွင့် တောင်းခံခြင်း | | |
| | (က) စက်ပစ္စည်း | - US$ ၆၀၇,၀၀၀ တန်ဖိုးရှိ စက်ပစ္စည်းများကို **ပူးတွဲ-၁** ဖြင့် တင်ပြထားပါသည်။ | - US$ ၂၉၉,၇၀၀ တန်ဖိုးရှိ စက်ပစ္စည်းများကို **ပူးတွဲ-၁** ဖြင့် တင်ပြ ထားပါသည်။ |
| | (ခ ) ကုန်ကြမ်းပစ္စည်း | - **ပူးတွဲ-၂** ဖြင့် တင်ပြထားပါသည်။ | - **ပူးတွဲ-၂** ဖြင့် တင်ပြထားပါသည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင် အမြတ်ငွေမှ ၂ % ကို ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။ | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့် လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိ ရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင် အမြတ်ငွေမှ ၂ % ကို ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရနှင့် ဝန်ကြီးဌာနများ၏သဘောထားမှတ်ချက် အကျဉ်းချုပ် | - | - |
| | **ရန်ကုန်တိုင်းဒေသကြီး** | - (၂၂-၅-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၉/၂၀၁၄) ကြိမ်မှ သဘောတူခွင့်ပြုထားပါသည်။ | - (၁၇-၇-၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၂၇/၂၀၁၄) ကြိမ်မှ သဘောတူခွင့်ပြုထားပါသည်။<br>- |

| | | | |
|---|---|---|---|
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | - ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက်(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ ဆက်စပ်ဝန်ကြီးဌာနများမှ ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းတို့နှင့်အညီလိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ | - ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ |
| | စက်မှုဝန်ကြီးဌာန | - စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်အတိုင်းကုမ္ပဏီမှပြန်လည်ပြင်ဆင်တင်ပြချက်များကိုသဘောတူလက်ခံပြီးနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ | - စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်အတိုင်းကုမ္ပဏီမှပြန်လည်ပြင်ဆင်တင်ပြချက်များကိုသဘောတူလက်ခံပြီးနိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ |
| | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | - CMPလုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏ သဘောထားမှတ်ချက်အတိုင်းကုမ္ပဏီမှပြန်လည်ပြင်ဆင်တင်ပြချက်များကိုသဘောတူလက်ခံပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေကာ ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုနိုင်သောကြောင့် CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ကိုင်ခွင့်ကို ခွင့်ပြုသင့်ပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ | - CMPလုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ၏ သဘောထားမှတ်ချက်အတိုင်း ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်တင်ပြချက်များကိုသဘောတူလက်ခံပြီးမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေကာ ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူပြုနိုင်သော ကြောင့် CMPစနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ကိုင်ခွင့်ကို ခွင့်ပြုသင့်ပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ |

| | | | |
|---|---|---|---|
| ၁၄။ | မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | - မီးဘေး ကြိုတင်ကာကွယ်ရေးအတွက် ရေဂါလံ ၁၀၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်တို့ဖြင့် တည်ဆောက်ထားခြင်းဖြစ်ပြီး ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါကြောင်း၊ စက်ရုံနံရံတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းတွင် မီးဘေး အန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထား ပါ ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို ပြဋ္ဌာန်းထားသော ဥပဒေများနှင့် အညီ တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ | - မီးဘေးကြိုတင် ကာကွယ်ရေးအတွက် ရေဂါလံ ၁၀၀,၀၀၀ ခန့် ရေလှောင်ကန်ကို တည်ဆောက် ထားရှိမည်ဖြစ်ပါကြောင်း၊ စက်ရုံအဆောက်အဦ မှာလည်းမီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ်တို့ဖြင့် တည်ဆောက်ထားခြင်းဖြစ်ပြီး ရေပုံး၊ မီးချိတ်၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို အဆင်သင့် ထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံနံရံတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းတွင် မီးဘေး အန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေး ပေါ် ကာကွယ်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို ပြဋ္ဌာန်းထားသော ဥပဒေများနှင့် အညီ တင်းကြပ်စွာ တားမြစ်ထားရှိခြင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

MIC

Form (2)

Republic of the Union of Myanmar ★ Myanmar Investment Commission ★

Sr,No. 295-C

Date 18-9-2014

# THE REPUBLIC OF THE UNION OF MYANMAR
## The Myanmar Investment Commission
## PERMIT

Permit No. 801/2014 Date 18th September 2014

This Permit is issued by the Myanmar Investment Commission according to the section 13, sub-section (b) of the Republic of the Union of Myanmar Foreign Investment Law-

(a) Name of Investor/Promoter MR. BINGXUE ZHAO

(b) Citizenship CHINESE

(c) Address LANE THWE-89 STREET, SHIN PHU STREET, NAN HWUN WARD, CHAN KYAN TOWN, PEOPLE'S REPUBLIC OF CHINA

(d) Name and Address of principle organization -

(e) Place of incorporation -

(f) Type of investment Business MANUFACTURING OF GARMENTS ON CMP BASIS

(g) Place(s) at which investment is permitted PLOT NO. 149, HLAING THARYAR INDUSTRIAL ZONE, HLAING THARYAR TOWNSHIP, YANGON REGION

(h) Amount of Foreign Capital US$ 0.504 MILLION

(I) Period for Foreign Capital Brought in WITHIN ONE YEAR FROM THE DATE OF ISSUANCE OF MIC PERMIT

(j) Total amount of capital (Kyat) EQUIVALENT IN KYAT OF US$ 0.504 MILLION

(k) Construction Period 1 YEAR

(l) Validity of investment permit 10 YEARS

(m) Form of investment WHOLLY FOREIGN OWNED INVESTMENT

(n) Name of Company incorporated in Myanmar LIAN CHENG COMPANY LIMITED

Chairman

The Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၈၀၁/ ၂၀၁၄ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၁၈ ရက်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၁၃၊ ပုဒ်မခွဲ(ခ) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည် -

(က) ရင်းနှီးမြှုပ်နှံသူ/ကမကထပြုသူ၏အမည် MR. BINGXUE ZHAO

(ခ) နိုင်ငံသား CHINESE

(ဂ) နေရပ်လိပ်စာ LANE THWE -89 STREET, SHIN PHU STREET, NAN HWUN WARD, CHAN KYAN TOWN, PEOPLE'S REPUBLIC OF CHINA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ -

(င) ဖွဲ့စည်းရာအရပ် -

(စ) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက် အမှတ်(၁၄၉)၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း ပမာဏ အမေရိကန်ဒေါ်လာ ၀.၅၀၄ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ (၁) နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၀.၅၀၄ သန်း နှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) တည်ဆောက်မှုကာလ ၁ နှစ်

(ဌ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၁၀ နှစ်

(ဍ) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

(ဎ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်

LIAN CHENG COMPANY LIMITED

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

Republic of the Union of Myanmar
Sr,No.............
Date.............
Myanmar Investment Commission

Confidential

THE REPUBLIC OF THE UNION OF MYANMAR
**MYANMAR INVESTMENT COMMISSION**
**No.(1), Thitsar Road, Yankin Township, Yangon**

Our ref : YaKa-3/FI-1031/2014(ဥဒ၁၈-င) Tel: 95-1-658128
Date : 18th September 2014 Fax: 95-1-658136

**Subject: Decision of the Myanmar Investment Commission on the Proposal for "Manufacturing of Garments on CMP Basis" under the name of "Lian Cheng Co., Ltd."**

Reference: Lian Cheng Co., Ltd., Letter dated (28-3-2014).

1. The Myanmar Investment Commission, at its meeting (21/2014) held on (15-8-2014) had approved that the proposal for investment in "Manufacturing of Garments on CMP Basis" under the name of "Lian Cheng Co., Ltd." submitted by Mr. Bingxue Zhao (99 %) and Mrs. Jianmei Zhou (1 %) from People's Republic of China as a wholly foreign owned investment.

2. Hence, the "Permit" is herewith issued in accordance with Chapter VII, section 13(b) of the Foreign Investment Law and Chapter VIII, Rule 49 of the Foreign Investment Rules relating to the Foreign Investment Law. Terms and conditions to the "Permit" are stated in the following paragraphs.

3. The permitted duration of the project shall be initial 10 (Ten) years and extendable for another 5 (five) years 2(two) time period.

4. The Lease term for the land lease agreement shall be 10(Ten) years and extendable for another 5(five) year 2(two) time periods. The annual rent for the land shall be US$ 25,103 (United States Dollar twenty-five thousand one hundred and three only) calculated at the rate of US$ 5 per square meter per year of the uncovered area measuring 1655.166 square meter and calculated at the rate of US$ 6 per square meter per year of the covered area measuring 2804.474 square meter (0.693 acres). The rate of rent shall be reviewed in view of prevailing land lease rates after every 5 (five) years period and increase of the rent shall not be more than 10 % of the preceding annual rent.

5. In issuing this "Permit," the Commission has granted, the followings exemptions and reliefs as per Chapter XII, section 27 (a), (h), (i) and (k) of the Foreign Investment Law. Other exemptions and reliefs under section 27

shall have to be applied upon the actual performance of the project;

(a) As per section 27(a), income tax exemption for a period of five consecutive years including the year of commencement on commercial production;

(b) As per section 27(h), exemption or relief from customs duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

(c) As per section 27(i), exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three-year after the completion of construction of business;

(d) As per section 27(k), exemption or relief from commercial tax on the goods produced for export.

6. Lian Cheng Co., Ltd. shall have to sign the Land and Building Lease Agreement with U Maung Maung Khine. After signing the Agreement, (5) copies shall have to be forwarded to the Commission.

7. Lian Cheng Co., Ltd. in consultation with the Department of Company Registration, Directorate of Investment and Company Administration shall have to be registered. After registration, (5) copies each of Certificate of Incorporation and Memorandum of Association and Articles of Association shall have to be forwarded to the Commission.

8. Lian Cheng Co., Ltd. shall use its best efforts for timely realization of works stated in the Proposal. If none of such works has been commenced within one year from the date of issue of this "Permit" it shall become null and void.

9. Lian Cheng Co., Ltd. has to abide by Chapter X, Rule 58 and 59 of the Foreign Investment Rules for construction period.

10. As per Chapter X, Rule 61 of the Foreign Investment Rules extension of construction period shall not be allowed more than twice except it is due to unavoidable events such as natural disasters, instabilities, riots, strikes, a state of emergency, insurgency and outbreak of wars.

11. As per Chapter X, Rule 63 of the Foreign Investment Rules, if Lian Cheng Co., Ltd. cannot construct completely in time during the construction period or extension period, the Commission will have to withdraw the permit issued to the investor and there is no refund for the expenses of the project.

12. The commercial date of operation shall be reported to the Commission.

13. Lian Cheng Co., Ltd. shall endeavour to meet the targets for production and export stated in the proposal as the minimum target.

14. The Commission approves periodical appointments of foreign experts and technicians from abroad as per proposal in accordance with Chapter XI, section 24 and section 25 of the Foreign Investment Law and the investor has to follow the existing Labour Laws for the recruitment of staff and labour in accordance with Chapter XIII, Rule 84 of the Foreign Investment Rules.

15. In order to evaluate foreign capital and for the purpose of its registration in accordance with the provisions under Chapter XV, section 37 of the Foreign Investment Law, it is compulsory to report as early as possible in the following manner:-

(a) the amount of foreign currency brought into Myanmar, attached with the necessary documents issued by the respective bank where the account is opened and defined under Chapter XVI, Rule 134 and 135 of the Foreign Investment Rules;

(b) the detailed lists of the type and value of foreign capital defined under Chapter I, section 2 (i) of the Foreign Investment Law, other than foreign currency.

16. Lian Cheng Co., Ltd. brings in foreign capital defined under Chapter I, section 2 (i) of the Foreign Investment Law, other than foreign currency in the manner stated in paragraph 15(b) mentioned above, the Inspection Certificate endorsed and issued by an internationally recognized Inspection Firm with regard to quantity, quality and price of imported materials shall have to be attached.

17. Lian Cheng Co., Ltd. has the right to make account transfer and expend the foreign currency from his bank account in accordance with Chapter XVI, Rule 136 and for transfer of local currency generated from the business to the local currency account opened at the bank by a citizen or a citizen-owned business in the State and right to transfer back the equivalent amount of foreign currency from the foreign currency bank account of citizen or citizen-owned business by submitting the sufficient document in accordance with Chapter XVII, Rule 145 of the Foreign Investment Rules.

18. Lian Cheng Co., Ltd. shall report to the Commission for any alteration in the physical and financial plan of the project. Cost over run, over and above the investment amount pledged in both local and foreign currency shall have to be reported as early as possible.

19. Lian Cheng Co., Ltd. shall be responsible for the preservation of the environment at and around the area of the project site. In addition to this, it shall carry out as per instructions made by Ministry of Environmental Conservation and Forestry in which to conduct an Environmental Management Plan (EMP) which describe the measure to be taken for preventing, mitigation and monitoring significant environmental impacts resulting from the implementation and operation of proposed project or business or activity has to be prepared and submitted and to perform activities in accordance with this EMP and to abide by the environmental policy, Environmental Conservation Law and other environmental related rules and procedures.

20. Lian Cheng Co., Ltd. shall contribute 2 % of the annual net profit for Corporate Social Responsibility (CSR) activities in Myanmar.

21. After getting permit from Myanmar Investment Commission, Lian Cheng Co., Ltd. shall have to be registered at the Directorate of Industrial Supervision and Inspection.

22. Lian Cheng Co., Ltd. shall have to abide by the Fire Services Department's rules, regulations, directives and instructions. Moreover, fire prevention measures shall have to undertake such as water storage tank, fire extinguishers and provide training to use the fire fighting equipment and to appoint fire safety officer.

23. Payment of principal and interest of the loan (if any) as well as payment for import of raw materials and spare parts etc., shall be made from export earning (CMP charges) of Lian Cheng Co., Ltd. Commercial tax shall be levied on sales of reject items.

24. Lian Cheng Co., Ltd. in consultation with Myanma Insurance, shall effect such types of insurance defined under Chapter XII, Rule 79 and 80 of the Foreign Investment Rules.

(Zay Yar Aung)

Chairman

Lian Cheng Co., Ltd.

cc:
1. Office of the Union Government of the Republic of the Union of Myanmar
2. Ministry of National Planning and Economic Development
3. Ministry of Finance
4. Ministry of Commerce
5. Ministry of Industry
6. Ministry of Foreign Affairs
7. Ministry of Home Affairs
8. Ministry of Immigration and Population
9. Ministry of Labour, Employment and Social Security
10. Ministry of Environmental Conservation and Forestry
11. Ministry of Electric Power
12. Office of the Yangon Region Government
13. Chairman, CMP Enterprise Supervision Committee
14. Director General, Directorate of Investment and Company Administration
15. Director General, Directorate of Human Settlement and Housing Development
16. Director General, Directorate of Industrial Supervision and Inspection
17. Director General, Customs Department
18. Director General, Internal Revenue Department
19. Managing Director, Myanma Foreign Trade Bank
20. Managing Director, Myanma Investment and Commercial Bank
21. Managing Director, Myanma Insurance
22. Managing Director, Myanma Electric Power Enterprise
23. Director General, Directorate of Trade
24. Director General, Immigration and National Registration Department
25. Director General, Directorate of Labour

26. Director General, Department of Environmental Conservation
27. Director General, Fire Services Department
28. Chairman, Republic of the Union of Myanmar Federation of Chambers of Commerce and Industry (UMFCCI)

နောက်ဆက်တွဲ-ဂ

စာအမှတ်.၂.၇.၂၂.. ရက်စွဲ...၂၃...၇...၂၀၁၄ ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၄ - ၂ ( ၁ ) / လူမှု
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

M-4603
24.7.14

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၅. ၅. ၂၀၁၄ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၁၀၃၁/၂၀၁၄(၄၉၅၄)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mr.Bringxue Zhao မှ ၉၉%နှင့်Mrs.Jianmei Zhou မှ ၁%ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lian Cheng Co.,Ltd. တည်ထောင်ပြီး မြေကွက်အမှတ် (၁၄၉)၊လှိုင်သာယာစက်မှုဇုံ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ (၁. ၁၀၂)ဧက (၄၄၅၉. ၆၄၀ စတုရန်းမီတာ)၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သား (၇၄၄)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် သက်ဆိုင်ရာဒေသတွင် လုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေ ပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းအတွက် မြေကွက်အမှတ်(၁၄၉)၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးရှိမြေ(၄၄၅၉. ၆၄၀စတုရန်းမီတာ)ရှိ မြေလွတ်(၁၆၅၅. ၁၆၆ စတုရန်းမီတာ) (၁. ၁၀ဧက) အား (၁စတုရန်းမီတာ =USD$5/m² /Year)နှုန်း၊ အဆောက်အဦပါမြေ(၂၈၀၄. ၄၇၄ စတုရန်း မီတာ)အား(၁စတုရန်းမီတာ=USD$6/m² /Year)နှုန်း၊ ဖြင့် တစ်နှစ်လျှင် (USD$251032) နှုန်းဖြင့် (၁၀)နှစ်ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်၊

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၁၇. ၇. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၄)၊ ဆုံးဖြတ်ချက် အပိုဒ်(၃၁)အရ Lian Cheng Co.,Ltd. ၏ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

(မြင့်ဆွေ)
ဝန်ကြီးချုပ်

မိတ္တူကို
တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Lian Cheng Co.,Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ - ၈

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**

**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

M-4598
30.5.14

**စာအမှတ်** ၂ / ၂၂၀ (ခ) (ဖ) / (၃၈၈၈ / ၂၀၁၄)
**ရက်စွဲ** ၂၀၁၄ ခုနှစ်၊ မေလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Lian Cheng Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၅-၂၀၁၄ ရက်စွဲပါစာအမှတ်- ရက -၁ / န - ၁၀၃၁ / ၂၀၁၄ (၄၉၅၅)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mr. Bingxue Zhao မှ ၉၉% နှင့် Mrs. Jianmei Zhou မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lian Cheng Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် ၁၄၉ ၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ၄၄၅၉.၆၄၀ စတုရန်းမီတာ၊ (၁.၁၀၂) ဧကတွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့် လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်၊ ကနဦး (၁၀)နှစ်ဖြင့် စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ မြေငှား စာချုပ်၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းများ၊ ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များ၊ ထုတ်လုပ်မည့်ကုန် ပစ္စည်းအမျိုးအစား၊ အထည်ချုပ်စက်ရုံပုံစံ၊ အသုံးပြုမည့်စက်ပစ္စည်းနှင့် ကုန်ကြမ်း ပစ္စည်းစာရင်း၊ စက်ရုံဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ မီးဘေးကာကွယ်ရေး အစီအစဉ်များ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှု အစီအစဉ်များ ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းတွင် အဓိကအသုံးပြုမည့် Fabric ၊ Synthetic Leather စသည့် ကုန်ကြမ်း ပိတ်စ/ ပစ္စည်းများသည် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများ ကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ ပိတ်စဖြတ်ခြင်း၊ ပုံစံ ညှပ်ခြင်း၊ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စက်များအသုံးပြု၍ ဆောင်ရွက်မည်ဖြစ် သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တရုတ်ပြည်သူ့သမ္မတနိုင်ငံ Mr. Bingxue Zhao မှ ၉၉% နှင့် Mrs. Jianmei Zhou မှ ၁% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Lian Cheng Co., Ltd တည်ထောင်ပြီး မြေကွက်အမှတ် ၁၄၉၊ လှိုင်သာယာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ၄၄၅၉.၆၄၀ စတုရန်းမီတာ၊ (၁.၁၀၂) ဧကေ၌ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(က) အထည်ချုပ်လုပ်ခြင်း လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများအသုံးပြု ဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-၈

M-4691 9/6

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၄-၂၀၁၅(၇၀၂)

ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဇွန်လ ၆ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅.၅.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၁/န-၁၀၃၁/၂၀၁၄(၄၉၅၃)

၁။ Lian Cheng Co.,Ltd. သည် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်၊ မြေကွက်အမှတ်-၁၄၉တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) CMP လုပ်ခနှုန်းထားတင်ပြထားချက် ဆီလျော်မှုရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ပူးတွဲသုံးပစ္စည်း သုံးစွဲမှုနှုန်းတင်ပြထားချက် ဆီလျော်မှုရှိပါသည်။

(ဆ) ကုန်ထုတ်လုပ်မှုလျာထားချက်နှင့် စက်အင်အား/လူအင်အား တင်ပြချက် ဆီလျော်မှုရှိပါသည်။

(ဈ) ထုတ်ကုန်ပစ္စည်းအမျိုးအစားတွင် ပါဝင်သော Cotton Padded အမည်အား Jacket/Coat စသည်ဖြင့် အမျိုးအစားရှင်းလင်းအောင် ခွဲခြားတင်ပြရန် လိုအပ်ပါသည်။

(ည) နှစ်အလိုက် ကုန်ထုတ်လုပ်မှုတင်ပြချက်နှင့် ကုန်ကြမ်းသုံးစွဲမှုနှုန်းတင်ပြချက် အရ ပိုမို/လျော့နည်းမှားယွင်း၍ တင်ပြထားပြီး ကုန်ကြမ်းသုံးစွဲမှုနှုန်း တင်ပြချက်တွင် မပါဝင်သော အမျိုးအစား(Fur, Chiffon, Woven tape, Lace trim, elastic)တို့ကို ပိုမိုတင်ပြထားသဖြင့် ဆီလျော်မှုရှိသော ကုန်ကြမ်းနှင့် ပူးတွဲသုံးပစ္စည်းများ ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Lian Cheng Co.,Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၆.၆.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အထည်အလိပ်လုပ်ငန်း

